5/4/2020

# မှန်ကန်ခိုင်လုံသော ဟဒီးဆ်တော်ကို တွေ့လျှင် ချက်ချင်းအမလ်ကျင့်သုံးခွင့် မရှိဘူးလား။ ထိုဟဒီးဆ်နဲ့ ဆန့်ကျင်ဘက်အရာ ရှိသလားဆိုတာကို အလျှင်ရှာဖွေဖို့ အရေးကြီးပါသလား။


**ရေးသားသူ-**

ဥပဒေပညာရှင် စိုင်ယိဒ် အဗ်ဒုလ်ဟိုင်ယ်

အလ်ဂမာရီ၊ အလ်ဟာစန်။

**ဘာသာပြန်ဆိုတင်ပြသူ-**

**မုဖ်သီ ဖိုင်စွာလ် ကာစိမိ**

**(တန့်ယန်း)**

بسم الله الرحمن الرحيم

الحمد لله رب العلمين والصلاة والسلام على رسوله النبي الكريم

هل يجب البحث عن المعارض قبل العمل بالسنة الصحيحة ... ؟؟

للعلاّمة الأصولي السيد عبد الحي بن الصدّيق الغماري الحسن

**ရေးသားသူ**-ဥပဒေပညာရှင် စိုင်ယိဒ် အဗ်ဒုလ်ဟိုင်ယ် အလ်ဂမာရီ၊ အလ်ဟာစန်။

**ဘာသာပြန်သူ**- မုဖ်သီဖိုင်စွာလ် ကာစိမီ (တန့်ယန်း)

တမန်တော်မြတ်(ဆွ)ထံမှ လာရှိသော ခိုင်လုံသည့် ဟဒီးဆ်တော်များကို ပယ်ချရန်အတွက် သက်လီးဒ်သမားများ ခုတုံးလုပ် အကြောင်းပြသည့် အကြောင်းပြချက်များအနက် တစ်ခုမှာ “ဟဒီးဆ်ကို အမလ်လုပ် ကျင့်သုံးဖို့ အတွက်ဆိုရင် ဆန့်ကျင်ဘက်ဟဒီးဆ် ရှိလားဆိုတာ အလျင်ဆုံး ရှာဖို့လိုတယ်။ ဘာလို့လဲဆိုတော့ တစ်ခါတလေ ဟဒီးဆ်တစ်ပုဒ်က ဝါဂျိဗ်၊ သို့မဟုတ် ဟရာမ်၊ သို့မဟုတ် မွတ်စ်သဟဗ္ဗကို ညွှန်ပြနေပြီး အခြားဟဒီးဆ်တစ်ပုဒ်က အဲဒါနဲ့ ဆန့်ကျင်ပြီး၊ သို့မဟုတ် အဲဒီဟဒီးဆ်သည် မန်ဆူးခ် (အမိန့်ပလပ်ခြင်းခံလိုက်ရသောအရာ) ဖြစ်သွားပြီ ဖြစ်ကြောင်း ညွှန်ပြနေတတ်သည်။ ဆိုတော့ အဲဒီလို ဆန့်ကျင်ဘက်ဟဒီးဆ်ရှိနေလား၊ မရှိဘူးလားဆိုတာကို သေချာလေ့လာနိုင်မဲ့ အရည်အချင်းက အိမာမ်ကြီးတွေမှာပဲ ရှိတယ်။ သူတို့နောက်ပိုင်းလူတွေမှာက အဲဒါကို သိဖို့ ဘယ်လိုမှ မဖြစ်နိုင်တော့ဘူး”တဲ့။

ဒါသည် တမန်တော်မြတ်(ဆွ)၏ ထင်ရှားတိကျသော ၊ ဘယ်လိုမှ တခြားပုံစံ ဖွင့်ဆိုလို့ မရနိုင်သော ဟဒီးဆ်တော်များကို စွန့်ပစ်ပယ်ချဖို့နဲ့ မိမိတို့၏

အိမာမ်ကြီးများရဲ့ စကားတွေကို ရှေ့တန်း တင်ဖို့အတွက် သက်လီးဒ်သမားများ ပြုလုပ်ထားသည့် အကြောင်းပြချက် ဖြစ်သည်။ သူတို့ရဲ့ ဒီအကြောင်းပြချက်ဟာ လုံးဝမှားပါတယ်။ အထောက်အထားလည်း မဲ့ပါတယ်။ အမှန်တကယ်တော့ ဒါဟာ သူတို့၏ မိုက်မဲမှုနှင့် အစွဲတို့ကနေ ဖြစ်ပေါ်လာတဲ့ အကြောင်းပြချက်ပဲ ဖြစ်တယ်။ အဲဒါကို အောက်ပါအထောက်အထားတွေနဲ့ ထောက်ပြနိုင်ပါတယ်။

## အထောက်အထား(၁)

သူတို့ရဲ့ အဲဒီအကြောင်းပြချက်များကြောင်း၊ ဘောင်မဝင်ကြောင်း ဖော်ပြတဲ့ ပထမအထောက် အထားကတော့ ဟဒီးဆ်မှန်လျှင် ကျွန်ုပ်၏ လမ်းစဉ်ပင်ဟု မိန့်ခဲ့သည့် အိမာမ် ရှာဖေ့အီ(ရဟ်)၏ အဆိုပင် ဖြစ်သည်။ ယင်းအဆိုပေါ် အခြေခံ၍ အိမာမ်သကီးယုဒ္ဒီးန်စုဗုကီက မိမိ၏ စာတမ်းတွင် ဤသို့ ရေးသားခဲ့သည်။

“မှန်ကန်ခိုင်လုံသော ဟဒီးဆ်တော်များတွင် ဆန့်ကျင်ဘက် ရှိသည်ဟု တစ်ညီတစ်ညွတ် လက်ခံထားတာ လုံးဝမရှိပါ။ အုစူလ်(ဥပဒေ)ပညာရှင်တွေ ပြောသည့် “ခဗရေ့ဝါဟိဒ်ကို ခဗရေ့မုသဝါသိရ်၊ သို့မဟုတ် ကုရ်အာန်၊ သို့မဟုတ် အိဂ်ျမားအ်က ဆန့်ကျင်လာပြီဆိုရင်” ဟူသည့် စကားသည် စိတ်ကူးယဉ်သတ်မှတ်ချက်သာ ဖြစ်သည်။ လက်တွေ့မှာ အဲဒီလို မရှိပါ။ ရှိတယ်လို့ ကြွေးကြော်တဲ့ သူဟာ ရှိကြောင်းပြပါ။ သို့မှသာ သူ့ကိုလည်း ကျွန်ုပ်တို့ ချေပနိုင်မည်။ ဒီလိုပဲ မှန်ကန် ခိုင်လုံတဲ့ ခဗရေ့ဝါဟိဒ်နှစ်ခုကြားမှာလည်း ဘယ်လိုမှ ညှိနှိုင်းယူလို့

မရသည့် ပုံစံမျိုး ဆန့်ကျင်ဘက် မရှိပေ။ အိမာမ်ရှာဖွေအီက ဟဒီးဆ်တွေကို လိုက်ကြည့်ပြီးတဲ့အခါ ဖော်ပြပါအတိုင်း တွေ့ရှိခဲ့တယ်။ ဒါကြောင့် ဒါကို သူ့ရဲ့ စကားတွေထဲမှာ တစ်နေရာမကမှာ အတိအလင်း ပြောခဲ့တယ်။ ဒါကြောင့်လည်း သူ့ထံမှာ မှန်ကန်ခိုင်လုံတဲ့ ဟဒီးဆ်တစ်ပုဒ်ကို ကျင့်သုံးဖို့ ဘာစည်းကမ်းချက်မှ မရှိဘူး။ အဲဒီဟဒီးဆ် မှန်ကန်ခိုင်လုံဖို့ပဲ လိုတယ်။ ဟဒီးဆ်က မှန်ကန်ခိုင်လုံ ပြီဆိုရင် ကျင့်သုံးဖို့ ဝါဂျစ်ဗ်ဖြစ်တယ်။ ဘာဖြစ်လို့ လဲဆိုတော့ သူ့ရဲ့ ဆန့်ကျင် ဘက် မရှိဘူး။ ဒါက အဖြစ်မှန်ပဲ။ အုစူလ်ပညာရှင်တွေပြောတဲ့ဟာက လက်တွေ့ မကျပါဘူး။ စိတ်ကူးယဉ်သတ်မှတ်ချက်သာ ဖြစ်တယ်။ ဤသည် အလွန်အကျိုး ထူးသော မှတ်ချက်ပင် ဖြစ်သည်။ အဲဒါကိုပဲ "ဟဒီးဆ်မှန်လျှင် ကျွန်ုပ်၏ လမ်းစဉ် ဖြစ်သည်"ဟူသော စကားက ညွှန်းနေပေသည်။ အိမာမ်ကြီးဟာ စည်းကမ်းချက် မသတ်မှတ်ဘဲ မိန့်ခဲ့သည်။"

ကျမ်းရှင်၏ စာသား ဤနေရာတွင် ဆုံးပြီ။ အလ်မဆူနီ ဝလ်ဗဿားရ်ကျမ်း စာ ၈၄။ ကျမ်းရှင်- ဟာဖိဇ် အဗုလ်ဖိုင်းဇ်- အလ်အန်ဝါးရ်ပုံနှိပ်။

မှန်ကန်ခိုင်လုံသော ဟဒီးဆ်နှစ်ပုဒ်ဟာ ဘယ်လိုမှ ညှိနှိုင်းလို့မရအောင် ဆန့် ကျင်ဘက်ဖြစ်တယ် ဆိုတာ မရှိကြောင်း အိမာမ်သကီးယုဒ္ဒီးန်စုဗုကီက အမိန့်ရှိ ထားပါသည်။ ပြီးတော့ အိမာမ်ရှာဖွေအီ(ရဟ်) ကလည်း ဒါကို သူ့ရဲ့စကားတွေ ထဲမှာ တစ်နေရာမကမှာ မိန့်ဆိုထားပါသည်။ ဟဒီးဆ်ကို ကျင့်သုံးဖို့ သူ့ရဲ့မှန်ကန် ခိုင်လုံမှုကို အဓိက စည်းကမ်းအဖြစ် ဖော်ပြထားသည်။ အကြောင်းမှာ ယင်းကဲ့

သို့ မှန်ကန်သော ဟဒီးဆ်မှာ ဆန့်ကျင်ဘက်ဆိုတာ မရှိပေ။ ဒါသည် လက်တွေ့ အနေအထား ဖြစ်သည်။ အုစူလ် ပညာရှင် တွေပြောတဲ့ဟာက လက်တွေ့မကျပါဘူး။ စိတ်ကူးယဉ်သတ်မှတ်ချက်သာ ဖြစ်တယ်။

ဒီအချက်တစ်ချက်တည်းက သူတို့ရဲ့ အကြောင်းပြချက် မှားကြောင်း၊ ဘောင်မဝင်ကြောင်း ပြဖို့ လုံလောက်ပါတယ်။ ဘာလို့လဲဆိုတော့ ဒီစကားဟာ ရှရီအသ်ပညာမှာ အဆင့်အတန်းမြင့်မားလှတဲ့ အိမာမ်ကြီး နှစ်ပါးထံမှ လာသော စကားဖြစ်တယ်။ ဒီအိမာမ်ကြီး နှစ်ပါးပြောတဲ့ စကားကို အောက်ဖော်ပြမည့် အထောက်အထားများက ထောက်ခံနေပါသည်။

## အထောက်အထား(၂)

ဆန့်ကျင်ဘက်မရှိခြင်းသည် မူလဖြစ်သည်။ ဘာလို့လဲဆိုရင် အလ္လာဟ် အရှင်မြတ်က မိမိ၏ ရှရီအသ်ကို အချင်းချင်းဆန့်ကျင်ဘက်တွေအဖြစ်နဲ့ ချပေးခဲ့တာ မဟုတ်ဘူး။ သို့သာမက ကုရ်အာန်နဲ့ ဝဟီကို အလ္လာဟ်က အချင်းချင်း အပြန်အလှန် ထောက်ခံသော အရာများအဖြစ် ချပေးခဲ့ခြင်းသာ ဖြစ်သည်။ စွန္နဟ်ခေါ် ဟဒီးဆ်သည် ကုရ်အာန်ကဲ့သို့ပင် ဖြစ်သည်မှာ အိဂ်ျမားအ်(ညီညွတ်သောအဆို) ဖြစ်သည်။ သည့်ထက်ပိုပြောရမယ်ဆိုရင် ကိသာဗုလ္လာဟ်ဆိုသည့် ခေါင်းစဉ်အောက်မှာပါ အကြုံးဝင်ပါသည်။

ဟာဖိဇ်အိဗ်နေ့ဟဂျရ်က ဖယ်ဟုလ်ဗာရီကျမ်းတွင် ဟဒီးဆ်ေအစီးဖ် အောက်မှာ ဤသို့ ဆိုသည်။ ငါကိုယ်တော်မြတ်သည် အသင်တို့နှစ်ဦးကြားတွင် အလ္လာဟ်ကျမ်းတော်ဖြင့် မုချ ဆုံးဖြတ်မည်တဲ့။ တကယ်တမ်းတော့ တမန်တော်မြတ်သည် မိမိစွန္နဟ်တော်ဖြင့် သူတို့နှစ်ဦးကြားတွင် ဆုံးဖြတ်ခဲ့သည်။ အကြောင်းမှာ နှစ်ခုစလုံးသည် အလ္လာဟ်ဘက်မှ ဖြစ်သည်။ ပို့ချခြင်းခံရသော ဝဟီသာလျင် ဖြစ်သည်။ ဒါက ဘာကို ညွှန်ပြနေသလဲဆိုတော့ ဆန့်ကျင်ဘက် မရှိခြင်းက မူရင်း၊ မူလဖြစ်သည်။ ဒါကြောင့် အဲဒီအတိုင်း ရပ်တည်ရမည်။ နစ္စ် (ကုရ်အာန်၊ဟဒီးဆ်) မလာရှိသည့်ကိစ္စတွင် နဖီ-အငြင်းသည်သာ မူလဖြစ်ပြီး ထိုအတိုင်းသာ ရပ်တည်ရသလိုမျိုးပေါ့။ အုစူလေ့ဖိကဟ်(ဓမ္မသတ်ဥပဒေ)မှာလည်း ဒီအတိုင်းပဲ အတည်ပြုထားပါတယ်။

## အထောက်အထား(၃)

ဟဒီးဆ်ရှိနေတာက ယုံကြည်မှု အပြည့်ပေးပြီးသား (ယကီနီ)ပါ။ ဟဒီးဆ်နဲ့ ဆန့်ကျင်ဘက် ရှိမလားဆိုတဲ့အချက်က သံသယကိစ္စ၊ သို့လော သို့လောကိစ္စ၊ မသေချာတဲ့ကိစ္စပါ။ အဲဒီ တော့ ရှရီအသ်ရဲ့ဥပဒေတစ်ခုရှိပါတယ်။ အဲဒါကတော့ ဖြစ်နိုင်ချေရှိပြီး၊ မရေရာတဲ့ အရာတစ်ခု အတွက်နဲ့ သေချာပြီးသား၊ ယုံကြည်မှုရရှိပြီးသားအရာတစ်ခုကို စွန့်လွှတ်လို့မရပါဘူး။

## အထောက်အထား(၄)

စွဟာဗဟ်များ၏ ကျင့်သုံးမှုသည် ဤစည်းကမ်းချက်နှင့် ဆန့်ကျင်ဘက်ပင် ဖြစ်ခဲ့သည်။ စွဟာဗဟ်များသည် ဟဒီးဆ်တွေကို ကျင့်သုံးရာမှာ တုံ့ဆိုင်းမှုမရှိ၊ ဆန့်ကျင်ဘက်ရှိလား ဆိုပြီး ရှာဖွေကြခြင်းလည်း မရှိခဲ့ပေ။ သူတို့ထံ ဟဒီးဆ် တစ်ပုဒ်ရောက်လာပြီဆိုရင် ထိုဟဒီးဆ်ကို ကျင့်သုံးလေတော့တာပဲ။ ဒါနဲ့ပတ်သက်ပြီး သူတို့ရဲ့ စီရင်ထုံးတွေကို လိုက်လံရှာဖွေ ကြည့်မယ်ဆိုရင် အတွဲကြီး တစ်တွဲလောက် ရနိုင်တယ်ဆိုပြီး ဟာဖိဇ်အိဗ်နုလ်ကိုင်ယိမ်က အိအ်လာမုလ်မုဝကိအီးန် ကျမ်းမှာ မိန့်ထားပါတယ်။

## အထောက်အထား(၅)

ဟဒီးဆ်ပေါ်မှာ မကျင့်သုံးမီ ထိုဟဒီးဆ်ရဲ့ဆန့်ကျင်ဘက် ရှိလားလို့ လိုက်ရှာဖို့ အရေးကြီးတယ်ဆိုတဲ့ သူတို့ ကြွေးကြော်မှုကို လက်ခံလိုက်ပြီဆိုပါစို့။ ဆန့်ကျင် ဘက် မရှိဘူးဆိုတာကို သိရဖို့ ကျွန်တော်တို့ခေတ်မှာ ရှေးအိမာမ်တွေရဲ့ ခေတ်မှာထက် ပိုလို့တောင် လွန်စွာ လွယ်ကူသွားပါပြီ။ ဘာလို့လဲဆိုတော့ အသစ်အသစ် ရိုက်နှိပ်ထုတ်ဝေမှုတွေကြောင့် ကျွန်တော်တို့ လက်ထဲမှာ မရေမတွက် နိုင်တဲ့ ဟဒီးဆ်စာအုပ်တွေ ရှိနေပါပြီ။ အဲဒီတော့ ရှာဖွေတဲ့လူအနေနှင့် ဆန့်ကျင်ဘက်ဟဒီးဆ်ရှိ၊ မရှိ ဆိုတဲ့ ကိစ္စကို ယတိပြတ်ပြောနိုင်ပြီ။ ဟဒီးဆ်ပါ အမိန့်နဲ့ ပတ်သက်ပြီး စိတ်အေးအေးနဲ့ ဘာဒွိဟမှ မရှိဘဲ ဆုံးဖြတ်နိုင်ပြီလေ။

ဒါက အိမာမ်တွေခေတ်မှာ မဖြစ်နိုင်ခဲ့ဘူး။ ဘာလို့လဲဆိုတော့ အဲဒီတုန်းက ဟဒီးဆ်တော်တွေကို စုဆောင်းပြုစုတဲ့ လုပ်ငန်းစဉ်ဟာ ပြည့်စုံတဲ့အဆင့်ကို မရောက်ခဲ့သေးဘူး။ ဆင့်ပြန်သူတွေဟာ အမြို့မြို့ အနယ်နယ်မှာ ပြန့်နေတဲ့ အတွက် ရင်ဘတ်တွေထဲမှာ တကွဲတပြားစီ ကျက်မှတ်ထားလျက်ပဲ ရှိခဲ့ကြတယ်။

အိမာမ်မာလိစ်က်ရေးသားတဲ့ စာအုပ်ပေါ်မှာပဲ လူအားလုံးကို ကျင့်သုံးစေဖို့ ဒီဘောင်ပြင်ကို ကျော်ပြီး ဘာကိုမှ မကျင့်သုံးဖို့ဆိုတဲ့အချက်ကို သဘောတူရန် မန်ဆူးရ် ဘုရင်က အိမာမ်မာလိစ်က်ကို တောင်းဆိုခဲ့တဲ့အခါ အိမာမ်ကြီးက သဘောမတူခဲ့တာလည်း ဒါကြောင့်ပါပဲ။ ဒီအတွေးကို လက်မခံ ပါရစေနဲ့လို့ အိမာမ်ကြီးက အောက်ပါအတိုင်း အကြောင်းပြခဲ့တယ်။ "စွဟာဗဟ်တွေဟာ ဟဒီးဆ်တွေကို ကြားသိပြီး၊ ဆင့်ပြန်ကြပြီး မြို့အသီးသီးမှာ ပြောင်းရွှေ့ရောက်ကုန်ကြပြီ"တဲ့။

ရရှီးဒ်ဘုရင်ကလည်း အိမာမ်ကြီးကို ဒီလိုပဲ တောင်းဆိုခဲ့ဖူးတယ်။ အဲဒီအခါမှာလည်း အိမာမ် ကြီးက ယခင်အတိုင်းပဲ ပြန်ချပြခဲ့တယ်။ ဒါကို ပိုပြီး ထင်ရှားသွားစေမှာက ယခုဖော်ပြမဲ့ အထောက် အထား နံပါတ်(၆)ပါပဲ။

## အထောက်အထား(၆)

လက်ရှိလူတို့ နောက်လိုက်နေကြတဲ့ အိမာမ်ကြီးတွေဟာ သူတို့ကျင့်သုံးတဲ့ ပညတ်ချက်အများအပြားမှာ ခွင်းချက်ပြုတဲ့၊ ကန့်သတ်တဲ့အရာတွေလည်း

ရှိနေကြပေမဲ့ ကုရ်အာန်၊ ဟဒီးဆ်ရဲ့ ခြိုင်အမိန့်၊ ယေဘုယျအမိန့်ကို ဆုပ်ကိုင်ကျင့်သုံးကြတာ အများကြီးရှိတယ်။ အထူးအားဖြင့် အိမာမ်အဗူဟနီဖဟ်နဲ့ အိမာမ်မာလိစ်က်တို့ ဖြစ်တယ်။ ဒါကို အမိန့်ပညတ်ဖော်ပြတဲ့ ဟဒီးဆ်တော်တွေကို သိရှိကျွမ်းကျင်တဲ့သူတွေ ကောင်းကောင်းသိကြပါတယ်။ သူတို့ရဲ့အဆိုတွေထဲမှာ ဒါမျိုးရှိနေခြင်းဟာ ဟဒီးဆ်တစ်ပုဒ်ကို ကျင့်သုံးရာမှာ အဲဒီဟဒီးဆ်ရဲ့ ဆန့်ကျင်ဘက်ကို ရှာဖို့ လိုတယ်လို့ သူတို့ မယူဆခဲ့ကြောင်း အလွန်ရှင်းတဲ့ အထောက်အထားတစ်ခု ဖြစ်တယ်။

ဒါကြောင့်လည်း သူတို့ရဲ့ အိစ်ဂျ်သိဟားဒ်(အပတ်တကုတ်ကြိုးစားသုံးသပ်မှု)တွေ အမျိုးမျိုး ပြောင်းခဲ့ကြတယ်။ သူတို့ရဲ့ ပထမယူဆချက်ပြီးနောက် ဆန့်ကျင်ဘက်အရာတွေကို သိလာခဲ့ကြတဲ့အတွက် သူတို့ထံကနေ ဆန့်ကျင်ဘက်အဆိုတွေလည်း ဆင့်ပြန်လာရှိကြတယ်။ တစ်ခါတလေကျတော့လည်း ဆန့်ကျင်ဘက်အရာကို သူတို့မသိခဲ့လို့ ခြွင်းချက်ပြုတဲ့အရာတွေ၊ ကန့်သတ်တဲ့အရာတွေ ရှိပေပြားလည်း ယေဘုယျ အများဆိုင် ခြိုင်တဲ့အဆိုပေါ်မှာပဲ သူတို့ ဆက်လက်ပြီး နေခဲ့ကြတယ်။

အိဗ်နုကုဒါမဟ်ရဲ့ အလ်မုဂ်နီကျမ်း၊ နဝဝီရဲ့ အလ်မဂျ်မူးအ်ကျမ်း၊ အိဗ်နုဟဂျရ်ရဲ့ အလ်ဖဿ်ဟ်ကျမ်း၊ ရှောင်ကာနီရဲ့ နိုင်လုလ်အောင်သွားရ်ကျမ်း၊ အမီးရ်စွာန်အာနီရဲ့ စုဗုလုလ်စလာမ်ကျမ်း အိမာမ်ကြီးတွေရဲ့ အဆို၊ အထောက်အထား

တွေကို ဖော်ပြတဲ့ အစရှိတဲ့ကျမ်းတွေကို လေ့လာတဲ့သူဟာ ဒါကို ကောင်း ကောင်းကြီး သိနိုင်ပါတယ်။

နောက်ပြီးဒါဟာ အိမာမ်ရှာဖွေအီအနေနဲ့ အီရတ်မှာ မိမိတည်ထောင်ခဲ့တဲ့ လမ်းစဉ် မတ်ဇ်ဟဗ်ကနေ အီဂျစ်မှာ တည်ထောင်တဲ့ မိမိရဲ့ လမ်းစဉ်အသစ်ဘက်သို့ လှည့်ခဲ့ရတဲ့ အကြောင်းတရားများ အနက် တစ်ခုလည်း ဖြစ်ပါတယ်။

## အထောက်အထား(၇)

ဆန့်ကျင်ဘက်နစ္စ်မရှိဘူးဆိုတာကို သိဖို့ဆိုတာ ဟဒီးဆ်တော်တွေ အားလုံး၊ ပညတ်ဆိုင်ရာအားလုံးကို သိမှဖြစ်ပါမယ်။ အဲဒီလို ဟဒီးဆ်တော်တွေ အားလုံးကို စေ့ငုံပြီး သိတဲ့သူသာလျှင် ဆန့်ကျင်ဘက်ဟဒီးဆ်မရှိဘူးဆိုတာကို သိနိုင်ပါမယ်။

ဟဒီးဆ်တော်အားလုံးကို တစ်ပုဒ်မကျန်သိဖို့ဆိုတာ ခက်ခဲရုံမက ဖြစ်လည်း မဖြစ်နိုင်ခဲ့ပါဘူး။ အဲဒါကို အိမာမ်ကြီးများကိုယ်တိုင်က ပြောခဲ့ကြပါတယ်။ ထို အကြောင်းကို “အိမာမ်ကြီးများအနက် မည်သူမျှ ဟဒီးဆ်တော်များကို ခြုံငုံ မသိကြောင်း အထောက်အထားတင်ပြခြင်း”တဲ့ ကျွန်တော့် စာအုပ်မှာ ကျွန်တော် ရှင်းတမ်းဖွင့်ထားပါတယ်။ ဆိုတော့ကား ဒီအချက်ကြောင့် အွမ္မသ်ထဲမှာ လက်ခံခြင်းခံရတဲ့၊ မှန်ကန်တဲ့ အိဂျ်သိဟားဒ်ရှင် တစ်ဦးမျှ မရှိခဲ့ဘူးလို့ ကောက်ချက်ချရတော့အနေအထား ရောက်သွားပြီ။ ဒီလိုကောက်ချက်ချရင်တော့ မှားသွား

ပါလိမ့်မယ်။ ဒါကြောင့် ဒီကောက်ချက်ကို ဖြစ်ပေါ်စေတဲ့ အချက်ဟာလည်း မှားတယ်။ အဲဒီမှားတယ်ဆိုတဲ့ အချက်က ဘာလဲ။ "ဟဒီးဆ်တစ်ပုဒ်မကျန် အားလုံးကို သိတဲ့အိမာမ်တွေ ရှိခဲ့တယ်"ဆိုတာပါပဲ။

(ဒီအချက်ဟာ လုံးဝမှားပါတယ်။ အိမာမ်တွေဟာ ဟဒီးဆ်တော်တွေ အားလုံးကို တစ်ပုဒ်မကျန်ရအောင် မသိခဲ့ဘူးဆိုတာ အမှန်တရားဖြစ်တဲ့အတွက် စစ်မှန်တဲ့ အိဂျ်သိဟားဒ်ဖြစ်ဖို့လည်း ဟဒီးဆ်တော်တွေအားလုံးကို သိရမယ်ဆိုတဲ့ စည်းကမ်းချက်မရှိကြောင်း ထင်ရှားစေပါတယ်။ ထို့ကြောင့် ဆန့်ကျင်ဘက် ဟဒီးဆ်ရှိလားဆိုတာကို ရှာဖွေပြီးမှ မှန်ကန်တဲ့ ဟဒီးဆ်တစ်ပုဒ်ကို ကျင့်သုံးခွင့် ရှိမယ်ဆိုတဲ့ အချက်ဟာလည်း မမှန်ကန်ကြောင်း တစ်ပါတည်း ထင်ရှားသွားပါပြီ။)

## အထောက်အထား(၈)

စွန္နသ်တော်ကို စွန့်လွှတ်ဖို့၊ ဟဒီးဆ်တော်ကို ကျော်ခိုင်းဖို့ သူတို့အကြောင်းပြတဲ့ အကြောင်းပြချက်ဟာ အိမာမ်တွေရဲ့စကားတွေမှာလည်း သက်ရောက်ပါတယ်။ ဘာလို့လည်းဆိုတော့ အိမာမ်တွေရဲ့စကားတွေဟာလည်း တစ်ခုနဲ့တစ်ခု တော်တော်ကို ဆန့်ကျင်ကြပါတယ်။

အိမာမ်တစ်ပါးထံကနေ မတ်စ်အလဟ်တစ်ခုမှာ ဟရာမ်ဖြစ်တယ်ဆိုတဲ့ အဆိုလည်းလာရှိသလို၊ ပိုင်တယ်ဆိုတဲ့ အဆိုလည်း လာရှိထားတယ်။ သူ့ရဲ့

နောက်အဆိုတစ်ခုမှာ မက်ရှုးဟ်လို့ လာရှိရင် လာရှိပြန်ရော။ ဒါကို ဖိကဟ် စာအုပ်တွေနဲ့ နှံ့စပ်တဲ့၊ အတွေ့အကြုံ ရှိတဲ့လူတိုင်း ကောင်းကောင်းကြီး သိပါတယ်။ ဒါမျိုးက မတ်ဇ်ဟဗ်အားလုံးမှာ များစွာ ရှိပါတယ်။ သို့ဖြစ်ရာ အိမာမ်ရဲ့ စကားအမြားအပြားမှာ ဆန့်ကျင်ဘက်အဆိုတွေ တွေ့ရှိရတာမို့ သူ့ရဲ့အဆိုတွေ အားလုံးမှာလည်း ဒါမျိုးဖြစ်နေနိုင်ဖို့က တော်တော့်ကို နီးစပ်နေပါတယ်။

ဒါကြောင့် သက်လီးဒ်သမားများဟာ အဲဒီအိမာမ်တွေရဲ့ စကားတွေနဲ့ ပတ်သက်လာရင်လည်း ဆန့်ကျင်ဘက်ရှိလား၊ မရှိဘူးလားဆိုတာကို သေချာရှာဖွေ သုတေသနပြုပြီးမှ ကျင့်သုံးရပါတော့မယ်။ အဲဒီလိုရှာဖွေစမ်းသပ်ဖို့ဆိုတာလည်း မဖြစ်နိုင်ပြန်ဘူး။ ဘာလို့လည်းဆိုတော့ ဟဒီးဆ်ကိစ္စမှာတုန်းက သူတို့ဟာ ဆန့်ကျင်ဘက်ရှိလားဆိုတာကို ရှာဖွေဖို့ အရည်အချင်း မပြည့်မီဘူးလို့ သူတို့ကိုယ်တိုင်ပဲ ဝန်ခံသတ်မှတ်ထားကြတယ်။ ဒါကြောင့် ဒီကိစ္စမှာလည်း ဆန့်ကျင်ဘက်ရှိလား၊ မရှိဘူးလားဆိုတာကို ရှာဖွေဖို့ သူတို့ အရည်အချင်း မပြည့်မီဘူးလို့ပဲ သတ်မှတ်ရပါမယ်။ အဲဒီလို အရည်အချင်းပြည့်မီတဲ့ သူက အိမာမ်ပဲ ဖြစ်တယ်လို့ သူတို့ တောက်လျှောက် ပြောထားကြတာလေ။

သူတို့ရဲ့ အကြောင်းပြချက်က ဘယ်လောက်ထိ သက်ရောက်သွားသလဲ ဆိုတော့ အလ္လာ့ဟ်ရဲ့ရှရီအသ်တစ်ခုလုံးကို စွန့်လွှတ်ရတော့မဲ့ ကိန်း ဆိုက်ရောက်သွားပါတယ်။ လူတွေပေါ် ကျရောက်လာတဲ့ ခေတ်သစ်ပြဿနာဖြစ်စေ၊ အိဗာဒသ်ဖြစ်စေ၊ အပေးအယူ ကိစ္စဖြစ်စေ ဘယ်ကိစ္စမှာမှ စွန္နသ်တော်ကနေ

လည်း အမိန့်ပညတ်ကို မယူနိုင်သလို အိမာမ်တွေရဲ့ အဆိုတွေကနေလည်း ယူလို့မရတော့ပါဘူး။

ဘာလို့လည်းဆိုတော့ ဟဒီးဆ်တော်တွေမှာလည်း ဆန့်ကျင်ဘက်တွေ ရှိတယ်ဆိုတာ ဖြစ်နိုင်သလို၊ အိမာမ်တွေရဲ့ အဆိုတွေမှာလည်း ဆန့်ကျင်ဘက် တွေရှိတယ်ဆိုတာ ဖြစ်နိုင်နေတယ်လေ။ ဒီစကားဟာ နားထောင်လိုက်တာနဲ့ သူ့ထဲမှာ ပါဝင်နေတဲ့ အမှားအယွင်း၊ အလွဲအချော်တွေကြောင့် ရှင်းပြစရာကိုပင် မလိုတော့ပါဘူး။ ဒါကို အသိအဉာဏ် အနည်းငယ် ရှိသူပင်လျှင် ကောင်းကောင်း သိနိုင်ပါတယ်။

## အထောက်အထား(၉)

သူတို့ရဲ့ ထူးဆန်းတဲ့ အပြုအမူတစ်ခုကို ပြောပြရဦးမယ်။ အထက်က ဖော်ပြ ခဲ့သလို သူတို့ရဲ့ ဒီအကြောင်းပြချက်ဟာ သူတို့ရဲ့ အိမာမ်တွေရဲ့ အဆိုတွေကို ကျင့်သုံးဖို့ကိုပါ စွန့်လွှတ်ရတော့မဲ့ ကိန်းဆိုက်နေတာကိုလည်း သူတို့ မသိချင် ယောင်ဆောင်နေကြတယ်။ ဒါမှမဟုတ် တကယ်ကို မေ့လျော့နေကြတယ်။ ဒါနဲ့ သူတို့ရဲ့ စာအုပ်တွေထဲမှာ သူတို့ဟာ မတ်စ်အလဟ်တစ်ခုထဲမှာပင် မိမိတို့ အိမာမ်ရဲ့ ဆန့်ကျင်ဘက်အဆိုတွေ၊ သို့မဟုတ် အိမာမ်ရဲ့ အုစူလ်ဥပဒေအတိုင်း လိုက်နာတဲ့ ထပ်ဆင့်ထုတ်နုတ်သူများရဲ့ ဆန့်ကျင်ဘက် အဆိုတွေကို ဖော်ပြ ကြတယ်။ ပြီးတော့ ဒီအဆိုတွေဟာ တစ်ခုနဲ့တစ်ခု ဆန့်ကျင်နေလင့်ကစား

ဒါတွေအပေါ်မှာ ကျင့်သုံးလို့ပိုင်ရုံမက ကျင့်သုံးဖို့ ဝါဂျိစ်ဗ်ဖြစ် တယ်လို့တောင် မှတ်ယူကြတယ်။

အထူးသဖြင့် အိမာမ်ထံမှ၊ သို့မဟုတ် မိမိမတ်ဇ်ဟဗ်ရဲ့ အချို့အိမာမ်တွေ ထံမှ ဆင့်ပြန်လာရှိတဲ့ အဆိုနှစ်ခုဟာ မရှ်ဟူးရ်(ကျော်ကြားတဲ့အဆိုတွေ) ဖြစ်နေ မယ်ဆိုရင် လူတစ်ယောက်တည်းက အဲဒီမတ်စ်အလဟ် တစ်ခုတည်းမှာ တစ်ချိန်တည်းမှာ နှစ်ခုစလုံးကို ကြိုက်တာ ကျင့်သုံးလို့ရတယ်။ ဘာပြဿနာမှ မရှိဘူးတဲ့။ အဲဒီအဆိုနှစ်ခုမှာ တစ်ခုက ဝါဂျစ်ဗ်လို့ ပြောနေပြီး နောက်တစ်ခုက ဟရာမ်လို့ ပြောနေပါစေ၊ ဒါမှမဟုတ် တစ်ခုက ပိုင်တယ်လို့ပြောပြီး နောက် အဆိုတစ်ခုက ဟရာမ်လို့ ပြောနေပါစေ။ ပြဿနာမရှိဘူး။

တစ်ခုနဲ့တစ်ခု ဆန့်ကျင်နေတဲ့ အဆိုတွေဟာ မတ်ဇ်ဟဗ်အတွင်းက ကျော်ကြားတဲ့ အဆိုတွေ ဖြစ်နေမယ်ဆိုရင် အဲဒီပေါ်မှာ ကျင့်သုံးလို့ပိုင်ရုံမက ကျင့်သုံးဖို့ ဝါဂျိစ်ဗ်တောင် ဖြစ်တယ်တဲ့။ ဦးနှောက်အရ တွေးကြည့်မယ်ဆိုရင်၊ ဦးနှောက်ရဲ့ တောင်းဆိုချက်အရဆိုရင် ဆန့်ကျင်ဘက်နှစ်ခု ဆုံစည်းဖို့ဆိုတာ မဖြစ်နိုင်ပါဘူး။

ဒါပေမဲ့သူတို့ဟာ မိမိတို့ ဦးနှောက်နဲ့ မစဉ်းစား၊ မတွေးတောကြဘူး။ တခြား လူတွေရဲ့ဦးနှောက်နဲ့ စဉ်းစားကြတာလေ။ ဒါဟာ သူတို့ အိမာမ်တွေထံမှ ဆင့်ပြန် လာရှိတဲ့ ဆန့်ကျင်ဘက်အဆိုတွေနဲ့ ပတ်သက်ပြီး ကျင့်သုံးပုံဖြစ်ပါတယ်။ အကယ်၍ သူတို့ဟာ မတ်ဇ်ဟဗ်နဲ့ ဆန့်ကျင်တဲ့ မှန်ကန်ခိုင်လုံတဲ့ ဟဒီးဆ်တစ်ပုဒ်

ကို တွေ့ပြီဆိုရင် ဘယ်လို ကြွေးကြော်ကျူးရင့်ကြသလဲ။ ဆန့်ကျင်ဘက် ဟဒီးဆ်ရှိနိုင်လို့ ဒီဟဒီးဆ်ပေါ်မှာ ကျင့်သုံးခြင်း မပိုင်ဘူးတဲ့။

မဟုတ်မမှန်တဲ့ အယူအဆပေါ်မှာ ဇွတ်ပေပြီး နေနေကြတဲ့၊ အမှန်တရားကို ခေါင်းမာအန်တုကြတဲ့ ဒီလူတွေရဲ့ ဦးနှောက်ကို ကျွန်တော် အံ့သြပါရဲ့။ ဘယ်လို တောင် ပြောင်းပြန် လုပ်ပစ်လိုက် ကြတာလဲ။ ဝဟီကိုသာပြောတဲ့၊ ပြောသမျှ စကားဟာ ဝဟီသာဖြစ်တဲ့ တမန်တော်မြတ်(ဆွ)ရဲ့ ဟဒီးဆ်တော်ပေါ်မှာ ကျင့် သုံးတာကို စွန့်ပစ်ရမယ်တဲ့။ ဘာဖြစ်လို့လဲ။ ဆန့်ကျင်ဘက်ဟဒီးဆ် ရှိနိုင်လို့တဲ့။ အဲဒီလို ဟဒီးဆ်မျိုး ရှိနိုင်လားဆိုတာလည်း မသေချာဘူး။

အများအားဖြင့် ဒီအကြောင်းပြချက်နဲ့ သူတို့ စွန့်ပစ်လိုက်တဲ့ ဟဒီးဆ် တော်တော်များများမှာ ဆန့်ကျင်ဘက်ဆိုတာ အမှန်တကယ်မရှိဘူး။ ဟဒီးဆ် တွေကို စွန့်ပစ်ဖို့ အကာအကွယ်ယူထားတဲ့ သူတို့ရဲ့ ဒီအကြောင်းပြချက်ဟာ အမှားတကာထဲက အမှားဆုံး အရာဖြစ်ကြောင်း အထက်ကအထောက် အထား တွေကို ကြည့်ပြီး အသင်စာရှုသူ သိလောက်ပါပြီ။ သူ့မတ်ဇ်ဟဗ်ရဲ့ အိမာမ်တွေ၊ ဒါမှမဟုတ် ပညာရှင်တွေရဲ့ ဆန့်ကျင်ဘက် အဆိုတွေကျတော့ စွန့်ပစ်ဖို့ အရေး မကြီးဘူးတဲ့။(အံ့ပါရဲ့)

အမှန်ဆို သူ့မတ်ဇ်ဟဗ်ရဲ့ အိမာမ်တွေ၊ ဒါမှမဟုတ် ပညာရှင်တွေရဲ့ ဆန့်ကျင် ဘက်အဆိုတွေဟာ တကယ်လည်း မတ်ဇ်ဟဗ်စာအုပ်တွေထဲမှာ မျက်ဝါး ထင်ထင် တွေ့နေကြရတယ်။ ဟဒီးဆ်တော် တွေအချင်းချင်း ဆန့်ကျင်မှုဖြစ်ခြင်း

ကတော့ စိတ်ကူးယဉ်အဆင့်၊ အထင်အဆင့်၊ ဖြစ်နိုင်ချေ အဆင့်သာရှိတယ်။ ဘာကြောင့်မှန်းမသိရတဲ့၊ အံ့သြစရာကောင်းလှတဲ့ ကိစ္စကတော့ မသေချာတဲ့ ဆန့်ကျင်ဘက် ရှိနိုင်တဲ့အတွက် တမန်တော်မြတ်(ဆွ)၏ ဟဒီးဆ်တော်ကို စွန့်လွှတ်ပစ်ပယ်ခြင်းပဲ ဖြစ်တယ်။

သူ့မတ်ဇ်ဟဗ်ရဲ့ အိမာမ်၊ ဒါမှမဟုတ် ပညာရှင်တွေရဲ့ ဆန့်ကျင်ဘက်အဆိုတွေကျတော့ လက်ခံခြင်းခံရတယ်။ ဆန့်ကျင်ဘက်တွေ အမှန်တကယ် ရှိနေလင့်ကစား ကျင့်သုံးဖို့ အရေးကြီး ဝါဂျိဗ်ဖြစ် နေတယ်။(အံ့သြလေခြင်း)။

သူတို့ရဲ့ အပြစ်ရှိတဲ့ ကျင့်သုံးပုံကို ကြည့်ပြီး ဘာသိရလဲဆိုတော့ သူတို့ဟာ တမန်တော်မြတ်(ဆွ)ရဲ့ ဟဒီးဆ်တော်တွေကို တစ်ခုနဲ့တစ်ခု ဆန့်ကျင်ဘက်တွေလို့ မှတ်ယူထားကြတယ်။ ဒါကြောင့်လည်း သူတို့ဆီမှာ ဟဒီးဆ်တစ်ပုဒ်ကို ကျင့်သုံးဖို့ဆိုတာ အဆင့်တွေ အများကြီး ဖြတ်ကျော်ရတယ်။ ဦးစွာ အနေနဲ့ အဲဒီ ဟဒီးဆ်ရဲ့ ဆန့်ကျင်ဘက်ရှိလား ဆိုတာကို ရှာဖွေရတယ်။ ပြီးတော့ တွေ့ရင် ဆန့်ကျင်ဘက် နှစ်ခုကို ညှိနှိုင်းယူရတယ်။ ဒါမှမဟုတ် ဆန့်ကျင်ဘက်မရှိဘူး ဆိုတာကို သေချာစွာ သိရမယ်။

သူတို့ အိမာမ်တွေရဲ့ အဆိုတွေမှာကျတော့ လုံးဝ ဆန့်ကျင်ဘက်မရှိဘူး လေ။( ရွဲ့နေခြင်း ဖြစ်သည်။) ဒါကြောင့် အဲဒီအဆိုတွေပေါ်မှာ ကျင့်သုံးဖို့အတွက် အခြားဆန့်ကျင်ဘက် ရှိသလား ဆိုတာကို ရှာဖို့မလိုဘူး။ အကယ်၍ လူတစ်ယောက်ကို "အသင်ကြိုးစား၊ ကြိုက်သလောက်ကြိုးစား၊ ကြိုးစားပြီးတော့

ဒီထက် ပိုလွဲမှားတဲ့၊ ယုတ္တိမရှိတဲ့ အတွေးအခေါ်တစ်ခုကို ယူလာပြောပြပါ"လို့ ခိုင်းလိုက်ရင် အဲဒီလူဟာ ဒီမျက်ကန်း သက်လီးဒ်သမားတွေရဲ့ စကားထက် ပိုပြီး လွဲမှား၊ ယုတ္တိမရှိတဲ့ စကားကို ယူလာနိုင်မှာမဟုတ်ဘူး။

ဒီအထောက်အထားတွေဟာ ဟဒီးဆ်ကို ကျင့်သုံးဖို့ဆိုရင် ဆန့်ကျင်ဘက်ရှိ၊ မရှိကို အရင် ရှာဖွေရမယ်လို့ သူတို့ သတ်မှတ်ထားတဲ့ စည်းကမ်းချက်မှားယွင်းကြောင်း အတိအလင်း မီးမောင်းထိုးပြနေပါတယ်။ ပြီးတော့ မိမိထံ ဟဒီးဆ် ရောက်လာရင် ဟဒီးဆ်ရဲ့ စကားလုံး၊ စာသားများက ပြဆိုတဲ့ အမိန့်တွေကို နားလည်နိုင်ရင် အခြားဆန့်ကျင်ဘက်တွေကို ရှာဖွေနေဖို့မလိုဘဲ ချက်ချင်း ဟဒီးဆ်ကို လိုက်နာကျင့်သုံးဖို့ လိုအပ်ကြောင်းကိုလည်း အလင်းပြနေပါတယ်။ ကျင့်သုံးပြီးနောက်မှ အကယ်၍ ဆန့်ကျင်ဘက်တစ်ခုခုကို သိလာရလျှင် သိလာတဲ့အတိုင်း ကျင့်သုံးရမယ်။ အထောက်အထားနှစ်ခု ဆန့်ကျင်လာရင် ဘယ်လို လုပ်ရမလဲဆိုတာကို ဖိကဟ်ဥပဒေကျမ်းတွေမှာ ပြဆိုထားတဲ့ နည်းလမ်းတွေ အတိုင်း လိုက်နာရပါမယ်။

ဒီအတိုင်းပဲ စွဟာဗဟ်တွေနဲ့ သာဗိအီးန်တွေရဲ့ ကျင့်သုံးမှု ရှိခဲ့တယ်။ သူတို့ဟာ ကြားလိုက်တဲ့ ဟဒီဆ်တော်ကို ဆန့်ကျင်ဘက်ရှိလားဆိုတာမရှာဘဲ ချက်ချင်း ကျင့်သုံးလေ့ရှိတယ်။ ပြီးနောက်မှ ဆန့်ကျင်ဘက်အရာ သူတို့ သိသွားရင် သိသွားတဲ့အတိုင်း ကျင့်သုံးကြတယ်။

ဒါနဲ့ ပတ်သက်ပြီး သူတို့ရဲ့ စီရင်ဆုံးဖြတ်ချက်တွေ အမြောက်အမြား ရှိတယ်။ အဲဒါတွေကို တစ်ခုချင်းစီ လိုက်လှန်ရှာဖွေမယ်ဆိုရင် အိအ်လာမုလ်မုဝကိအီးန်မှာ အိဗ်နုလ်ကိုင်ယိမ်(ရဟ်)ပြောသလိုပဲ စာအုပ်အတွဲကြီး တစ်တွဲဖြစ်နိုင်တယ်။ မတ်ဇ်ဟဗ် နောက်လိုက်များက ဟဒီးဆ်တော်ကို ကျင့်သုံးဖို့ သတ်မှတ်ကြတဲ့ ဒီစည်းကမ်း၊ အကောင်းဆုံး ခေတ်ကလူများဖြစ်တဲ့၊ ကုရ်အာန် စွန္နဟ်ကို အသိဆုံး လူတွေဖြစ်တဲ့ စွဟာဗဟ်နဲ့ သာဗိအီးန်တွေတောင် မသတ်မှတ်ခဲ့ကြတဲ့ ဒီစည်းကမ်းချက်ဟာ အမှန်တကယ်တော့ ဟဒီးဆ်တော်တွေကို စွန့်လွှတ်ပစ်ပယ်ပြီး မတ်ဇ်ဟဗ်ကို ဟဒီးဆ်ထက် ဦးစားပေးနိုင်ရေးအတွက် ကြိုးစားထားတဲ့ အောက်တန်းကျ ကြိုးစားမှုပဲ ဖြစ်တယ်။ အလွန်ကို သိသာနေတဲ့ ဟဒီးဆ်ပစ်ပယ်မှုပဲ ဖြစ်တယ်။

အဲဒီလိုမဟုတ်ဘူးဆိုရင် ဆန့်ကျင်ဘက်တွေ အမှန်တကယ်ပဲ ပေါ်ပေါ်လွင်လွင် ရှိနေတဲ့ သူတို့ရဲ့ အိမာမ်ရဲ့ အဆိုတွေကို ကျင့်သုံးတဲ့အခါမှာကျတော့ ဆန့်ကျင်ဘက် ရှိလားဆိုတာ ရှာဖွေဖို့ အရေးကြီးကြောင်း စည်းကမ်းချက် အဖြစ် ဘာလို့ မသတ်မှတ်ကြတာလဲ။

ဒီအပေါ်မှာ အပြတ်သားဆုံး၊ အရှင်းဆုံး အထောက်အထားကတော့ ဖိကဟ်စာအုပ်တွေရဲ့ မတ်စ်အလဟ် အများအပြားမှာ ဖော်ပြထားတဲ့ အဆိုတွေပဲဖြစ်တယ်။ မတ်စ်အလဟ် တစ်ခုတည်းနဲ့ ပတ်သက်ပြီး အဆိုတွေအများကြီးပဲ။ အဆိုတစ်ခုက ပိုင်တယ်တယ်။ ဒီမတ်စ်အလဟ်မှာပဲ နောက်အဆို တစ်ခုက

ဟရာမ်တဲ့။ နောက်အဆို တစ်ခုက မက်ရှူးဟ်တဲ့။ ဒါတွေက ကျွန်တော်တင်ပြခဲ့တဲ့ အချက်ပေါ် မှာ ထင်ရှားတဲ့ အထောက်အထား မဟုတ်ဘူးလာ။

ဒီစည်းကမ်းချက် သတ်မှတ်ရတဲ့ သူတို့ရဲ့ ရည်ရွယ်ချက်က မိမိတို့ရဲ့ မတ်ဇ်ဟဗ်ကို ကူညီဖို့ပဲ။ စွန္နဟ်ပေါ်မှာ မိမိတို့ မတ်ဇ်ဟဗ်ကို ဦးစားပေးဖို့အတွက်ပဲ။ ဒါကြောင့်ပဲ ဟဒီးဆ်ကို ကျင့်သုံးဖို့ ဒီချည့်နဲ့တဲ့ စည်းကမ်းချက်ကို သူတို့ ထွင်လိုက်ကြတယ်။ သူတို့ရဲ့အိမာမ်ရဲ့ဆန့်ကျင်ဘက် ဖြစ်နေတဲ့ အဆိုတွေနဲ့ ပတ်သက်ပြီးကျတော့ ကျင့်သုံးဖို့ ဒီစည်းကမ်းချက်ကို မသတ်မှတ်ကြဘူး။

အိမာမ်ရဲ့ ပေါ်ပေါ်လွင်လွင် ဆန့်ကျင်ဘက်ဖြစ်နတဲ့ အဆိုတွေကိုကျတော့ ကျင့်သုံးဖို့ ဝါဂျစ်ဗ်ဖြစ်တယ်။ ဟဒီးဆ်တော်ကို ကျင့်သုံးရတော့မယ်ဆိုရင်တော့ မသေချာတဲ့ ဆန့်ကျင်ဘက်တွေကို အရင်ရှာရမယ်။ မရှာရသေးဘဲ ဟဒီးဆ်တော်ကို ကျင့်သုံးခြင်း ဟရာမ်ဖြစ်တယ်တဲ့။ သူတို့ တကယ်ပဲ ဒီလို မှတ်ယူကျင့်သုံးနေကြတာလား။

အကယ်၍ သူတို့ ဒီလို မှတ်ယူထားကြတယ်ဆိုရင်(သူတို့ရဲ့ လုပ်ရပ်တွေက အဖြစ်မှန်မှာလည်း ဒီလိုပဲ ဖော်ပြနေတယ်။) သူတို့ဟာ အလွန်ဝေးလံတဲ့ လမ်းလွဲလမ်းမှားချောက်နက်ထဲကို ရောက်နေကြပြီ။